

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်




## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၀၇၃/၉၇ ၁၉၉၇ ခုနှစ်၊ ဇွန် လ ၁၃ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဒေါ်စန်းစန်းဝင်း(ခ)ဆောကင်ဂျာ

(ခ) အဘအမည် ဦးကောင်းရွှောင်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လမတ(နိုင်)၀၀၀၂၆၂

(ဃ) နေရပ်လိပ်စာ အမှတ် ၁၂၀၊ ဒုတိယထပ်၊ ၄၁ လမ်း၊
ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့၊

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ပလာစတာဂလပ်(စ်) စီးလင်း ပရော်ဒက်(စ်) လီမိတက် (Masterglass Ceiling Products Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား မျက်နှာကျက် ပျောက်ပြားနှင့် ပလာစတာဂလပ်(စ်) အပြားထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ဦးပိုင်အမှတ်(၂၆)၊ ကွင်းအမှတ်-၉၀၀(ခ) သာယာကုန်းကွင်း၊ ကွန်းကလေးကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်။

(ဇ) မတည်ငွေရင်း ပမာဏ(ကျပ်) ၁၂.၄၀ သန်း (ကျပ်တစ်ဆယ့်နှစ်သန်းလေးသိန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမိန့်ကြော်ငြာစာအမှတ် ၂၀ / ၉၁
ရန်ကုန်မြို့၊ ၁၃၅၃ ခုနှစ်၊ နယုန်လဆန်း ၈ ရက်
( ၁၉၉၁ ခုနှစ်၊ ဇွန်လ ၁၉ရက် )

၁။ မြန်မာကုမ္ပဏီဖြစ်သော ပလာစတာဂလပ်(စ်)စီးလင်းပရောဒတ်(စ်)လီမိတက်( Plasterglass Ceiling Products Ltd. )သည် ရန်ကုန်တိုင်း၊ လှည်းကူးမြို့နယ်၊ ကျွန်းကလေးကျေးရွာအုပ်စု၊ သာယာကုန်းကွင်း၊ ဦးပိုင်အမှတ်(၂၆)၊ ကွင်းအမှတ်-၉၈၈(ခ) ရှိ မြေ(၀.၈၂)ဧက(၃၃၁၈.၄၂၅ စတုရန်းမီတာ)တွင် စက်ရုံတည်ဆောက်၍ မျက်နှာကျက်ကျောက်ပြားနှင့် ပလာစတာဂလပ်(စ်)အပြားများ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၉-၃-၉၁) နေ့တွင်ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈/၉၁) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့်သဘောတူညီခဲ့ပြီး အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၄-၆-၉၁) နေ့တွင်ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၂၀/၉၁) ကြိမ်မြောက်အစည်းအဝေးသို့ ဒုတိယဝန်ကြီးချုပ်ရုံးမှ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရအပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံး၍ ပလာစတာဂလပ်(စ်)စီးလင်းပရောဒတ်(စ်)လီမိတက်အား မျက်နှာကျက်ကျောက်ပြားနှင့် ပလာစတာဂလပ်(စ်)အပြားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၇၃/၉၁ ကို ထုတ်ပေးလိုက်သည်။

၂။ ပလာစတာဂလပ်(စ်)စီးလင်းပရောဒတ်(စ်)လီမိတက် - ( Plasterglass Ceiling Products Ltd. ) အနေဖြင့် ဤခွင့်ပြုမိန့်အရ မျက်နှာကျက်ကျောက်ပြားနှင့် ပလာစတာဂလပ်(စ်)အပြားများ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း (၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှုလုပ်ငန်းစတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ ၁၃ ပါပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်

ပြုပါအခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ၎င်းအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည်ဖော်မှုအခြေအနေအပေါ် မူတည်၍ ကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃ (ခ) အရ လုပ်ငန်း၏ နိုင်ငံခြားသို့ တင်ပို့မှုမှ နိုင်ငံခြားငွေဖြင့် ရရှိသည့်အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်း အထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျက် ၎င်းကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃ (ဂ) အရ ထုတ်လုပ်မှုလုပ်ငန်းကြောင့် သက်မှတ်သည့် နှုန်းအထိ ပြည်တွင်း၊ ပြည်ပ ဝင်ငွေကို တက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီးသည့်အခါ လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြလျက် ၎င်းကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီး၍ အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျက် ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတိုနှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် ဂစ်မျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃ (ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌မရရှိနိုင်သည့်အမှန်တကယ်လိုအပ်၍ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာအစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃ (ဈ) အရ သတ်မှတ်ထားသည့်ကနဦး ရင်းနှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွင်းကုန်ထုတ်လုပ်ရန်ပြည်ပမှတင်သွင်းသည့်ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကိုကင်းလွတ်ခွင့်ပြုသည်။

(ဇ) ဥပဒေပုဒ်မ ၁၃ (ည) အရ ထုတ်လုပ်သည့်ကုန်ပစ္စည်းများကိုပြည်ပသို့ တင်ပို့ရောင်းချမှုအပေါ်ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ (ဇ) အရ ပြည်ပမှတင်သွင်းသည့်စက်ပစ္စည်းများ နှင့်ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေရရှိပုံနည်းလမ်း ( Source of Payments for Import ) ဥပမာ-ပြည်ပတင်ပို့မှုမှဝင်ငွေ၊ ပြည်ပချေးငွေ ( Loan and Credits ) ကုန်ပစ္စည်းပြန်လည်ဝယ်ယူသည့်စနစ် ( Buy-back System ) စသည်တို့ကိုဖော်ပြရန်။

(ခ) တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှုရှိသည်တို့နှင့်စပ်လျဉ်း၍ နိုင်ငံတကာအသိအမှတ်ပြုထားသည့်စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency ) ၏စစ်ဆေးမှုဖြင့်ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေးကိုယ်စားလှယ်၏စစ်ဆေးပြီးကြောင်းအထောက်အထား ( Inspection Certificate ) ဖြင့်တင်သွင်းမည့်ပစ္စည်းအမျိုးအစားစာရင်း ( Invoice and Packing List ) များကိုနိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ထံသို့တင်ပြ၍ ထောက်ခံချက်ရယူရန်။

၄။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ဒေါ်စန်းစန်းဝင်း (ခ) စောကင်မာနှင့်ပလာစတာဂလပ်(စ်) ဗီးလင်းပရောဒက်(စ်) လိမိတက်တို့ အကြား ချုပ်ဆိုမည့် မြေငှားသဘောတူစာချုပ်လက်မှတ်ရေးထိုးပြီးသည့်အခါယင်းသဘောတူစာချုပ်မိတ္တူ (၁) စောင်ကို၎င်း ကော်မရှင်သို့တင်ပြရမည်။

၅။ ရင်းနှီးမြှုပ်နှံသူအနေဖြင့် မြေအသုံးပြုမှုနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းသတ်မှတ်ချက်များကိုတိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၆။ ပလာစတာဂလပ်(စ်)စီးလင်းပရောဒတ်(စ်)လီမိတက် - (Plasterglass Ceiling Products Ltd) မှ နိုင်ငံခြားသားကျွမ်းကျင်သူများငှားရမ်းခွင့်ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ အခန်း (၉)၊ အပိုဒ်၃၃ ပါသတ်မှတ်ချက်များနှင့်အညီ ကော်မရှင်သို့သီးခြားတင်ပြလျှောက်ထားရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများခန့်ထားရာတွင်အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားမှုဦးစီးဌာနနှင့်ညှိနှိုင်းဆောင်ရွက်ရမည်။

၈။ ပလာစတာဂလပ်(စ်)စီးလင်းပရောဒတ်(စ်)လီမိတက် - (Plasterglass Ceiling Products Ltd.) သည်ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှုစသည်များ မဖြစ်ပေါ်စေရန်အတွက်လိုအပ်သည့်ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းသိမ်းကာကွယ်ရေးအစီအမံများ၊ မီးဘေးအန္တရာယ်နှင့်ပေါက်ကွဲမှုများ မဖြစ်ပွားစေရန်ကြိုတင်ကာကွယ်မှုများကိုစနစ်တကျထားရှိဆောင်ရွက်ရမည်။

၉။ အဆိုပြုလုပ်ငန်း စတင်ဆောင်ရွက်သည့်နေ့ရက်ကို ဤကော်မရှင်သို့အမြန်ဆုံးအစီရင်ခံရမည်။

၁၀။ ဤခွင့်ပြုမိန့်ထုတ်ပေးသည့်နေ့မှစ၍တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်းစတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည်အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟုမှတ်ယူရမည်။

အမိန့်အရ-

(ဗိုလ်မှူး ချုပ်မောင်မောင်)
အတွင်းရေးမှူး
[ဝန်ကြီး၊ ဒုတိယဝန်ကြီးချုပ်ရုံး]

စာအမှတ်၊ ရက-၁/မ-၁၂၄/၉၇(၄၆၁)။
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ ဇွန်လ ၁၃ ရက်။

ဖြန့်ဝေခြင်း -

၁။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ဥက္ကဋ္ဌရုံး၊
၂။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ရုံး၊
၃။ အစိုးရအဖွဲ့ရုံး၊
၄။ ဒုတိယဝန်ကြီးချုပ်ရုံး၊
၅။ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၊
၆။ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန၊
၇။ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊
၈။ အမှတ်(၁)စက်မှုဝန်ကြီးဌာန၊
၉။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန၊
၁၀။ အလုပ်သမားဝန်ကြီးဌာန၊
၁၁။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်၊
၁၂။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်၊
(ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်းစာရင်းအင်းနှင့်စစ်ဆေးရေးဦးစီးဌာန)
၁၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန၊
၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန၊
၁၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း၊
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန၊
၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ကြွေထည်မြေထည်လုပ်ငန်း၊
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုညွှန်ကြားရေးဦးစီးဌာန၊
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဦးစီးဌာန၊
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားမှုဦးစီးဌာန၊
၂၁။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်း၊
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊
၂၃။ အုပ်ချုပ်မှုဒါရိုက်တာ၊ ပလာစတာဂလပ်(စ်)စီးလင်းပရောဒက်(စ်)လီမိတက်၊
( Plasterglass Ceiling Products Ltd. )

အမိန့်အရ-

(မောင်မောင်ဇံ)
တွဲဖက်အတွင်းရေးမှူး။



*၅၀၀/၆/၉၇။